3/7/18






ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**ဟိုတယ်နှင့်ခရီးသွားလာရေးဝန်ကြီးဌာန**
ဝန်ကြီးရုံး

စာအမှတ်၊ ၁၈-၈/(အုပ်ချုပ်မှု)/နပတ/ ၂၇၀၃

ရက်စွဲ၊ ၂၀၁၇ ခုနှစ်၊ ဒီဇင်ဘာ လ ၂၆ ရက်။

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **Sedona Hotel Mandalayအား Hilton Mandalay Hotel အမည်ဖြင့် EDEN Group Co., Ltd မှ လုပ်ငန်းများဆက်လက် ဆောင် ရွက်နိုင်ရန် လုပ်ငန်းအဆိုပြုလွှာတင်ပြလာခြင်းကိစ္စ**

ရည်ညွှန်းချက် ။ (၁) ဟိုတယ်နှင့်ခရီးသွားလာရေးဝန်ကြီးဌာန၏ (၁၁.၈.၂၀၁၆)ရက်စွဲပါ စာအမှတ်၊ ၁၈-၈(အုပ်ချုပ်မှု)/နပတ/၂၀၄၅

(၂) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂၅.၈.၂၀၁၆)ရက်စွဲပါစာ အမှတ် မရက-၉/န/၂၀၁၆(၀၉၃၉)

၁။ စင်္ကာပူနိုင်ငံအခြေစိုက် Keppel Land International Ltd သည် အမှတ်(၁)၊ (၂၆)လမ်းနှင့်(၆၆)လမ်းထောင့်၊ချမ်းအေးသာဇံမြို့နယ်၊ မန္တလေးမြို့ရှိ မြေဧရိယာ(၄.၂၂၇)ဧကပေါ်တွင် အခန်း(၃၀၀)ပါနိုင်ငံတကာအဆင့်မီ Sedona Hotel Mandalay ကို ဖွင့်လှစ် နိုင်ရန်အတွက် မြန်မာနိုင်ငံတွင် Wiseland Investment (Myanmar) Co., Ltd ကိုဖွဲ့စည်း တည်ထောင်၍ ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှုဦးစီးဌာနနှင့် (၁၅-၉-၁၉၉၅) ရက်နေ့တွင် နှစ်ဖက်သဘောတူBOT စာချုပ်ကို ချုပ်ဆိုပြီးဟိုတယ်ကို(၂၅-၁-၂၀၀၀)ရက်နေ့တွင်တရားဝင် ဖွင့်လှစ်ခဲ့ ပါသည်။

၂။ ထို့နောက် မြေငှားကာလသက်တမ်းအား မူလနှစ်(၃၀)မှ ဟိုတယ်တရားဝင်ဖွင့်လှစ်ခဲ့ သော (၂၅-၁-၂၀၀၀)ရက်နေ့မှစတင်၍ နှစ်(၅၀) တစ်ဆက်တည်း (၁၀)နှစ် (၂)ကြိမ်သက်တမ်း တိုးခွင့်အား

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ခွင့်ပြုချက်ဖြင့် (၁၆-၁၂-၂၀၁၄)ရက်နေ့တွင်ပြင်ဆင်ချက်စာချုပ်ကို ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ အကြံပြုချက်နှင့်အညီ Wiseland Investment (Myanmar)Co., Ltd နှင့် ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှုဦးစီးဌာနတို့သည် နှစ်ဘက်သဘောတူစာချုပ်အား လက်မှတ် ရေးထိုး ချုပ်ဆိုခဲ့ပြီးဖြစ်ပါသည်။ (နောက်ဆက်တွဲ-က)

၃။ Wiseland Investment (Myanmar)Co., Ltd မှ EDEN Group Co., Ltd သို့ လုပ်ပိုင်ခွင့်နှင့် တာဝန်ဝတ္တရားများကို လွှဲပြောင်းခွင့်ပြုရန်နှင့်ပတ်သက်၍ ပြည်ထောင်စုအစိုးရအဖွဲ့ ရုံး၏ (၂၅-၁၁-၂၀၁၆)ရက်နေ့၌ ကျင်းပပြုလုပ်ခဲ့သည့်အစည်းအဝေးအမှတ်စဉ် (၁၆/၂၀၁၆)မှ ခွင့်ပြု ခဲ့ရာပြည်ထောင်စုရှေ့နေချုပ်ရုံး၏အကြံပြုချက်နှင့်အညီဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှုဦးစီးဌာန၊ Wiseland Investment Myanmar Co..ltd နှင့် EDEN GroupCo.,Ltd တို့သည် Deed of Assignment စာချုပ်ကို(၁-၂- ၂၀၁၇)ရက်နေ့တွင် လက်မှတ်ရေးထိုးခဲ့ပြီး ဖြစ်ရာ Sedona Hotel Mandalay၏လုပ်ငန်းများကို EDEN Group မှ ဆက်လက် ဆောင်ရွက်လျက်ရှိပါသည်။

(နောက်ဆက်တွဲ-ခ)

၄။ ထို့နောက် EDEN Group Co., Ltd မှဟိုတယ်လုပ်ငန်းများအား ပြည်တွင်းရင်းနှီး မြှုပ်နှံမှုဖြင့်လုပ်ငန်းများဆက်လက်ဆောင်ရွက်နိုင်ရန်အတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် သို့ ရည်ညွှန်း(၁)ပါစာဖြင့်တင်ပြပေးခဲ့ရာ (၁၉-၈-၂၀၁၆) ရက်နေ့တွင်ကျင်းပသော (၁၅/၂၀၁၆) ကြိမ်မြောက်အစည်းအဝေးမှ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုကုမ္ပဏီဖြစ်သော Wiseland Investment (Myanmar) Co., Ltd ၏အစုရှယ်ယာများအား EDEN Group Co., Ltd သို့လွှဲပြောင်း ရောင်းချခွင့်နှင့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေမှ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ လုပ်ငန်းဆက်လက်ဆောင်ရွက်ခွင့်ပြုရန် ဆုံးဖြတ်ခဲ့ပြီး EDEN Group Co., Ltd မှ မြန်မာ နိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ အဆိုပြုချက်တင်ပြရန်ဖြစ်ကြောင်း ရည်ညွှန်း(၂) ပါ စာဖြင့်အကြောင်း ကြားလာပါသည်။

၅။ ယခုအခါ EDEN Group Co., Ltdမှ လုပ်ငန်းအဆိုပြုလွှာနှင့်အတူအောက်ပါအတိုင်း တင်ပြလာပါသည် - **(နောက်ဆက်တွဲ-ဂ)**

(က) ဟိုတယ်၏မြေငှားကာလကို (၁-၁-၂၀၂၀) မှ စတင်၍ ကနဦး နှစ်(၅၀) ပြောင်းလဲသတ်မှတ်ပေးပါ ရန်၊

(ခ) နှစ်စဉ်ငှားရမ်းခကို လက်ရှိတွင်အမေရိကန်ဒေါ်လာ (၄၄၀,၀၀၀)ပေးသွင်း လျက်ရှိရာမှအမေရိကန်ဒေါ်လာ(၄၆၂,၀၀၀)သို့တိုးမြှင့်ပေးသွင်းခွင့်ပြုပါ ရန်၊

(ဂ ) အဆောက်အဦမွမ်းမံပြင်ဆင်ကုန်ကျစရိတ်အားအမေရိကန်ဒေါ်လာ(၁၅)သန်း နှင့် Wiseland Investment (Myanmar) Co., Ltd သို့ အစု ရှယ်ယာများ လွှဲပြောင်းရယူခဲ့သည့် အမေရိကန်ဒေါ်လာ(၄၁)သန်း စုစုပေါင်း ရင်းနှီးမြှုပ်နှံမှု ပမာဏ(၅၆)သန်း ထပ်မံရင်းနှီးရင်းနှီးမြှုပ်နှံခွင့်ပြုပါရန်၊

(ဃ) Sedona Mandalay Hotel ကိုလည်း "Hilton Mandalay Hotel" အမည် ဖြင့် ပြောင်းလဲလုပ်ကိုင်ခွင့်ပြုပါရန်၊

၆။ Sedona Hotel Mandalay နှင့် စပ်လျဉ်း၍ EDEN Group Co., Ltd ၏ တင်ပြချက် အပေါ် အောက်ပါအတိုင်း စိစစ်တင်ပြအပ် ပါသည် -

(က) ဟိုတယ်၏မြေငှားကာလနှင့် ပတ်သက်၍ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုကုမ္ပဏီ Wiseland Investment(Myanmar) Co., Ltd နှင့် ဟိုတယ်နှင့်ခရီးသွား ညွှန်ကြားမှုဦးစီးဌာနတို့ မူလစာချုပ်၏ ပြင်ဆင်ချက်စာချုပ် စာချုပ်အပိုဒ်တွင် ဟိုတယ်တရားဝင်ဖွင့်လှစ်သော (၂၅-၁-၂၀၀၀)ရက်နေ့မှ စတင်၍ကနဦးနှစ်(၅၀) ဖြစ်သည့်အတွက် မူလနိုင်ငံခြားကုမ္ပဏီ မှနှစ်(၂၀)ဆောင်ရွက်ပြီးဖြစ်ရာ EDEN Group Co., Ltd မှ တင်ပြလာသော (၁-၁-၂၀၂၀)မှ နှစ်(၅၀) ခွင့်ပြုပေးရန် တင်ပြလာခြင်းသည် ထပ်မံရင်းနှီးမြှုပ်နှံမည့် ပမာဏနှင့်လုပ်ငန်းဆက်လက် ဆောင်ရွက်မည့်ကာလတို့အား ထည့်သွင်းစဉ်းစားလျှင် သင့်လျော်ကြောင်း စိစစ်တွေ့ရှိရပါသည်။

(ခ ) နှစ်စဉ်ငှားရမ်းခကိုလက်ရှိတွင် အမေရိကန်ဒေါ်လာ (၄၄၀,၀၀၀) ပေးသွင်းလျှက်ရှိရာ မှ အမေရိကန်ဒေါ်လာ (၄၆၂,၀၀၀)ကို ပေးသွင်း ခွင့်ပြုပါ ရန် တင်ပြလာခြင်းမှာ (၂၅-၁၁- ၂၀၁၆)ရက်နေ့တွင် ကျင်းပသော ပြည်ထောင်စု အစိုးရအဖွဲ့ အစည်းအဝေး အမှတ်စဉ်(၁၆/၂၀၁၆)မှ ပြန်လည်စိစစ် လမ်းညွှန်ချက်အရ ဟိုတယ်နှင့် ခရီးသွားလာရေးဝန်ကြီးဌာနမှ (၂၀-၁၂-၂၀၁၆) ရက်စွဲပါစာဖြင့် ပြန်လည် တင်ပြခဲ့မှုအပေါ်မြေငှားရမ်းခအားဒေါ်လာဖြင့် ပေးသွင်းစေရန်နှင့် အကြီးစား အသေးစားပြင်ဆင်ရန် ဒေါ်လာ(၁၀)သန်းထပ်မံရင်းနှီးလိုခြင်းအပေါ်လုပ်ထုံးလုပ်နည်းနှင့်အညီ ဆောင်ရွက်ရန်(၁၀-၁-၂၀၁၇) ရက်စွဲပါ စာဖြင့် ခွင့်ပြုခဲ့ပြီးဖြစ်ပါသည်။ **နောက်ဆက်တွဲ(ဃ၊င၊စ)**

(ဂ) EDEN Group မှ တင်ပြသော USD (၄၆၂,၀၀၀) နှုန်းထားကို ထပ်မံချုပ်ဆိုမည့်ပြင်ဆင်ချက် စာချုပ်လက်မှတ်ရေးထိုးသည့်နေ့မှစ၍ စတင်ကောက်ခံသွားမည်ဖြစ်ပါသည်။

(ဃ) EDEN Group Co., Ltdနှင့် ဤဝန်ကြီးဌာနတို့ လက်မှတ်ရေးထိုးမည့် ပြင်ဆင်ချက် စာချုပ်အား ပြည်ထောင်စုရှေ့နေချုပ်ရုံးသို့ ဆက်လက်တင်ပြဆောင်ရွက်သွားမည်ဖြစ်ပါသည်။

၇။ သို့ဖြစ်ပါ၍ Sedona Hotel Mandalay အား Hilton Mandalay Hotel အမည်ဖြင့် EDEN Group Co., Ltd မှ လုပ်ငန်းများဆက်လက် ဆောင်ရွက်နိုင်ရန် လုပ်ငန်းအဆိုပြုလွှာ တင်ပြလာခြင်းအပေါ် ခွင့်ပြုပေးနိုင်ပါရန် တင်ပြအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(ရည်မွန်၊အမြဲတမ်းအတွင်းဝန်)

မိတ္တူကို

ညွှန်ကြားရေးမှူးချုပ်၊ ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှုဦးစီးဌာန

ရုံးလက်ခံ

မျှော

16/1

**WISELAND INVESTMENT (MYANMAR) LTD**
No 23/25, Kaba Aye Pagoda Road, Golden Valley Ward (2)
Bahan Township, Yangon, Myanmar
Tel: +951-8603205
Fax: +951-8603328

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁) ၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။

ရက်စွဲ။ ။ ၂၀၁၇ ခုနှစ်၊ ဒီဇင်ဘာလ (၇) ရက်။

အကြောင်းအရာ ။ ။**<u>မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ ရင်းနှီးမြှုပ်နှံမှုအဆိုပြုချက်ပေးပို့တင်ပြခြင်း။</u>**

လေးစားရပါသောလူကြီးမင်းခင်ဗျား ။ ။

၁။ ကျွန်တော်တို့၏ "**ဝိုက်(စ်)လန်း အင်ဗက်(စ်)မန့် (မြန်မာ) လီမိတက်**" "WISELAND INVESTMENT (MYANMAR) LIMITED" သည် ဟိုတယ်နှင့်ခရီးသွားလာရေးဝန်ကြီးဌာန၊ ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှုဦးစီးဌာနပိုင်မြေဖြစ်သည့် မန္တလေးတိုင်းဒေသကြီး၊ မန္တလေးမြို့ ၊ ချမ်းအေးသာဇံမြို့နယ် ၊ ၂၆ လမ်း နှင့် ၆၆ လမ်းထောင့်တွင် တည်ရှိသော ဧရိယာ (၄.၂၂၇ ဧက) အကျယ်အဝန်းမြေကွက်ပေါ်ရှိ (၁၉၈၃၅ စတုရန်းမီတာ) အကျယ်အဝန်းရှိသော အဆောက်အအုံတွင် "**ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း**" ဆောင်ရွက်ရန်အတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်ရယူရန် ရင်းနှီးမြှုပ်နှံမှုအဆိုပြုချက် ပေးပို့တင်ပြ လျှောက်ထားသောကုမ္ပဏီဖြစ်ပါသည်။

၂။ ယခင် "**ဝိုက်(စ်)လန်း အင်ဗက်(စ်)မန့် (မြန်မာ) လီမိတက်**" "WISELAND INVESTMENT (MYANMAR) LIMITED" မှာ ရာနှုန်းပြည့် နိုင်ငံခြားသား ရင်းနှီးမြှုပ်နှံသော ကုမ္ပဏီဖြစ်ပါသည်။ ယခုအခါ မြန်မာနိုင်ငံသားပိုင် Eden Hotels & Resort Co., Ltd. မှ အများစုရှယ်ယာဖြစ်သော ရှယ်ယာ (၉၉.၉ %) နှင့် မြန်မာနိုင်ငံသားဖြစ်သော ဦးဝဏ္ဏခိုင်မှ ကျန် (၀.၁%) ရှယ်ယာအား လွှဲပြောင်းရယူပြီးဖြစ်ပါသဖြင့် ရှယ်ယာရာနှုန်းပြည့်မှာ မြန်မာနိုင်ငံသားမှ ပိုင်ဆိုင်ပြီးဖြစ်ပါသည်။ အဆိုပါ လွှဲပြောင်းခြင်းလုပ်ငန်း မဆောင်ရွက်မီတွင် **ဝိုက်(စ်)လန်း အင်ဗက်(စ်)မန့် (မြန်မာ) လီမိတက်**" "WISELAND INVESTMENT (MYANMAR) LIMITED" မှာ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်ဖြင့် SEDONA MANDALAY HOTEL အား တည်ထောင်ဆောင်ရွက်ခဲ့ပါသည်။

16/1

**WISELAND INVESTMENT (MYANMAR) LTD**
No 23/25, Kaba Aye Pagoda Road, Golden Valley Ward (2)
Bahan Township, Yangon, Myanmar
Tel: +951-8603205
Fax: +951-8603328

၃။ ယခုလွှဲပြောင်းရယူရန်အတွက် ကာလတန်ဖိုးပိုင်းဖြတ်ခြင်းများ ဆောင်ရွက်ကာ တန်ဖိုးကျသင့်ငွေအားလည်း လွှဲပြောင်းရယူသည့် Eden Hotels & Resort Co., Ltd. မှပင် ယခင်ရှယ်ယာရှင်များသို့ ပေးချေခြင်းအားဆောင်ရွက်လျက်ရှိပြီး ၂၀၁၈ခုနှစ်၊ ဇန်နဝါရီလတွင် နောက်ဆုံးပေးချေမှုအား ဆောင်ရွက်မည် ဖြစ်ပါသည်။ ထိုပေးချေမှု (ရှယ်ယာလွှဲပြောင်းယူခြင်းအပါအဝင်) အမေရိကန်ဒေါ်လာ ၄၁ သန်း (မြန်မာကျပ်ငွေ ၅၃,၃၀၀ သန်း) အား လက်ရှိလွှဲပြောင်း ရယူသော အစုရှယ်ယာရှင်များ၏ ရင်းနှီးမြှုပ်နှံမှုအစိတ်အပိုင်း အဖြစ်ဖြင့် ယခုတင်ပြသော အဆိုပြုလွှာတွင် ထည့်သွင်းတွက်ချက်ထားပါသည်။ ဟိုတယ်လုပ်ငန်း ဆောင်ရွက်ရန် ထပ်မံ မွမ်းမံမှုများအတွက်လည်း ရင်းနှီးမြှုပ်နှံမှု အမေရိကန်ဒေါ်လာ ၁၅ သန်း (မြန်မာကျပ်ငွေ ၁၉,၅၀၀ သန်း) ထည့်ဝင်မည်ဖြစ်ပါသဖြင့် တင်ပြသည့် အဆိုပြုလွှာ၏ ရင်းနှီးမြှုပ်နှံမှုပမာဏ စုစုပေါင်းမှာ အမေရိကန်ဒေါ်လာ ၅၆ သန်း (မြန်မာကျပ်ငွေ ၇၂,၈၀၀ သန်း) ဖြစ်ပါသည်။

၄။ ကျွန်တော်တို့၏ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း လည်ပတ်ရန်အတွက် ဟိုတယ်စီမံအုပ်ချုပ်မှုလုပ်ငန်းများအား Hilton IP မှ တာဝန်ယူဆောင်ရွက်မည်ဖြစ်ကာ လိုအပ်သော စာချုပ်ချုပ်ဆိုခြင်းများအားဆောင်ရွက်ပြီး ဖြစ်ပါသည်။ လုပ်ငန်းလုပ်ကိုင်မည့်မြေအား ဆက်လက်ငှားရမ်းခြင်း လုပ်ငန်းစဉ်များအတွက်လည်း ဟိုတယ်နှင့် ခရီးသွားလာရေးဝန်ကြီးဌာန၊ ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှုဦးစီးဌာန နှင့် စာချုပ်ချုပ်ဆိုပြီးဖြစ်ပါသည်။ သို့ဖြစ်ပါ၍ နိုင်ငံတကာအဆင့်မြင့် ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းအား နိုင်ငံသား ရာနှုန်းပြည့် ကုမ္ပဏီအနေဖြင့် ဆောင်ရွက်မည့် အဆိုပြုလုပ်ငန်းအား ခွင့်ပြုမိန့်ရယူရန် လိုအပ်သည့် စာရွက်စာတမ်းများ ပူးတွဲလျက်မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက် ပေးပို့တင်ပြခြင်း ဖြစ်ပါသည်။

ရိုသေလေးစားစွာဖြင့်
လျှောက်ထားသူ

**( ချစ်ခိုင် )**
**အဆိုပြုဒါရိုက်တာ**
WISELAND INVESTMENT (MYANMAR) LIMITED

16/1

**WISELAND INVESTMENT (MYANMAR) LTD**
No 23/25, Kaba Aye Pagoda Road, Golden Valley Ward (2)
Bahan Township, Yangon, Myanmar
Tel: +951-8603205
Fax: +951-8603328

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁) ၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။

ရက်စွဲ ။ ။ ၂၀၁၇ ခုနှစ်၊ ဒီဇင်ဘာလ (၇) ရက် ။

အကြောင်းအရာ ။ ။ <u>ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းဆောင်ရွက်မည့် လုပ်ငန်းအကျဉ်းအား ရှင်းလင်းတင်ပြခြင်း။</u>

လေးစားရပါသောလူကြီးမင်းခင်ဗျား ။ ။

၁။ အထက်ပါအကြောင်းအရာနှင့် ပတ်သက်၍ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ ကျွန်တော်တို့၏ **"ဝိုက်(စ်)လန်း အင်ဗက်(စ်)မန့် (မြန်မာ) လီမိတက်"** "WISELAND INVESTMENT (MYANMAR) LIMITED" သည် ဟိုတယ်နှင့်ခရီးသွားလာရေးဝန်ကြီးဌာန၊ ဟိုတယ်နှင့်ခရီးသွား ညွှန်ကြားမှုဦးစီးဌာနပိုင် မြေဖြစ်သည့် မန္တလေးတိုင်းဒေသကြီး၊ မန္တလေးမြို့ ၊ ချမ်းအေးသာဇံမြို့နယ် ၊ ၂၆ လမ်း နှင့် ၆၆ လမ်းထောင့်တွင် တည်ရှိသော ဧရိယာ (၄.၂၂၇ ဧက) အကျယ်အဝန်း မြေကွက်ပေါ်ရှိ (၁၉၈၃၅ စတုရန်းမီတာ) အကျယ်အဝန်းရှိသော အဆောက်အအုံတွင် **"ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း"** ဆောင်ရွက်ရန်အတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်ရယူရန် ရင်းနှီးမြှုပ်နှံမှုအဆိုပြုချက်ပေးပို့တင်ပြရာတွင် လုပ်ငန်းဖြစ်ပေါ်သည့် အကျဉ်းချုပ်အား ရှင်းလင်းတင်ပြခြင်း ဖြစ်ပါသည်။

၂။ Wiseland Investment (Myanmar) Ltd. သည် အထက်ဖော်ပြပါ မြေနေရာတွင် Sedona Mandalay Hotel ကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ၁၃.၇.၁၉၉၅ ရက်စွဲပါ ခွင့်ပြုမိန့်အမှတ်(၁၅၀/၉၅) ဖြင့် ခွင့်ပြုချက်ရရှိကာ လုပ်ငန်းလည်ပတ်ခဲ့ပါသည်။

၃။ အဆိုပါ Sedona Mandalay Hotel ကို ၁၉၉၈ ခုနှစ် ၊ ဇန်နဝါရီလ ၂၅ ရက်နေ့တွင် အကြိုဖွင့်လှစ်ခဲ့ပြီး ၊ ၂၀၀၀ ပြည့်နှစ် ဇန်နဝါရီလ ၂၅ ရက်နေ့တွင် တရားဝင်ဖွင့်လှစ်ခဲ့ပါသည် ။ Wiseland Investment (Myanmar) Ltd. သည် ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှုဦးစီးဌာနနှင့် BUILD, OPERATE AND TRANSFER CONTRACT ကို ၁၉၉၅ခုနှစ်၊ စက်တင်ဘာလ ၁၅ ရက်နေ့ တွင်လက်မှတ်ရေးထိုးခဲ့ပြီး၊ AMENDMENT CONTRACT ကို ၂၀၁၄ခုနှစ်၊ ဒီဇင်ဘာလ ၁၆ ရက်နေ့တွင် လက်မှတ်ရေးထိုးခဲ့ပါသည်။

16/1

**WISELAND INVESTMENT (MYANMAR) LTD**
No 23/25, Kaba Aye Pagoda Road, Golden Valley Ward (2)
Bahan Township, Yangon, Myanmar
Tel: +951-8603205
Fax: +951-8603328

၄။ ဟိုတယ်တည်နေရာ၏ မြေပိုင်ရှင်မှာ ဟိုတယ်နှင့် ခရီးသွားညွှန်ကြားမှုဦးစီးဌာနဖြစ်ပြီး ၊ Wiseland Investment (Myanmar) Ltd. အနေဖြင့် BUILD, OPERATE AND TRANSFER (BOT) စနစ်ဖြင့် ၂၀၀၀ ပြည့်နှစ် ဇန်နဂါရီလ ၂၅ ရက်နေ့မှ ၂၀၅၀ ခုနှစ်၊ ဇန်နဂါရီလ ၂၄ ရက်နေ့အထိ နှစ် (၅၀) ငှားရမ်းခွင့် ရရှိထားခြင်းဖြစ်ပါသည်။

၅။ ဟိုတယ်သည် ၅ ထပ်အဆောက်အဦးဖြစ်ပြီး ၊ အခန်းပေါင်း (၂၅၁) ခန်းပါဝင်ပြီး ၊ ဧည့်ခံပွဲ အခမ်းအနားများကျင်းပရန် အခန်းများ၊ မင်္ဂလာခန်းမများ ၊ စားသောက်ဆိုင်များ ၊ ဆိုင်ခန်းများ နှင့် အပန်းဖြေ အနားယူရန်နေရာများအဖြစ် ရေကူးကန်၊ တင်းနစ်ကစားကွင်းနှင့် အားကစားခန်းမတို့ပါဝင်ပါသည်။ဟိုတယ်လိုင်စင် ရရှိထားပြီး လည်ပတ်နေသော လုပ်ငန်းဖြစ်ပါသည် ။

၆။ အဆိုပါ Wiseland Investment (Myanmar) Ltd. ၏ ရှယ်ယာရှင် ရင်းနှီးမြှုပ်နှံသူများ အနေဖြင့် အဆိုပါ Sedona Mandalay Hotel ကို ဆက်လက်လုပ်ကိုင်လိုခြင်း မရှိတော့ပါသဖြင့် EDEN Group Co., Ltd. သို့လွှဲပြောင်း ရောင်းချခွင့်ကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြခွင့်ပြုချက် တောင်းခံခဲ့ရာ ၂၀၁၆ ခုနှစ် ၊ ဩဂုတ်လ ၁၉ ရက်နေ့တွင် ကျင်းပသော အစည်းအဝေးအမှတ်စဉ် (၁၅/၂၀၁၆) ၏ ဆုံးဖြတ်ချက်အရ ၊ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၁၆ ခုနှစ် ၊ ဩဂုတ်လ ၂၅ ရက်စွဲပါ စာအမှတ် မရက -၉ /န/ ၂၀၁၆ (၀၉၃၉) ဖြင့် "နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုကုမ္ပဏီဖြစ်သော Wiseland Investment (Myanmar) Ltd. ၏ အစုရှယ်ယာများကို နိုင်ငံသားပိုင်ကုမ္ပဏီဖြစ်သော EDEN Group Co., Ltd. သို့လွှဲပြောင်း ရောင်းချခွင့် နှင့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေမှ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ လုပ်ငန်းဆက်လက်ဆောင်ရွက်ခွင့်ပြုရန်" ဟူ၍ ဆုံးဖြတ် ခဲ့ပါသည်။

၇။ ဤဆုံးဖြတ်ချက်နှင့်အညီ EDEN Group Co., Ltd. သို့လွှဲပြောင်းပေးသော Deed of Assignment on Transfer of all Legal Rights and Liabilities စာချုပ်ကို ၂၀၁၇ ခုနှစ် ၊ ဖေဖော်ဝါရီလ ၁ ရက်နေ့တွင် ဟိုတယ်နှင့် ခရီးသွားညွှန်ကြားမှုဦးစီးဌာန ၊ Wiseland Investment (Myanmar) Ltd. နှင့် EDEN Group Co., Ltd တို့အကြား လက်မှတ်ရေးထိုး စာချုပ်ချုပ်ဆိုခဲ့ကြပါသည်။

၈။ ထို့နောက် Wiseland Investment (Myanmar) Ltd. မှ EDEN Group Co., Ltd သို့ ရှယ်ယာလွှဲပြောင်းခြင်း လုပ်ငန်းစဉ်များကို Sale and Purchase Agreement အရ ဆက်လက်ဆောင်ရွက်ခဲ့ရာ ၊ Wiseland Investment (Myanmar) Ltd. ၏ ရှယ်ယာစုစုပေါင်း ၁,၀၈၄ ရှယ်ယာ (၉၉.၉%) ၊ တန်ဖိုးအားဖြင့် တစ်ရှယ်ယာလျှင် ၁,၀၀၀ ကျပ်နှုန်းဖြင့် စုစုပေါင်းတန်ဖိုး ကျပ် ၁,၀၈၄,၀၀၀ ကို Eden Group Co., Ltd နှင့် ရှယ်ယာရှင်များအားလုံး (၁၀၀%) တူညီသည့် ဟိုတယ်လုပ်ငန်း နှင့် ဆက်စပ်လုပ်ငန်းများ လုပ်ဆောင်ရန် ရည်ရွယ်တည်ထောင်ထားသည့် **Eden Hotels & Resort Co., Ltd.** သို့ လည်းကောင်း ၊ ကျန် ၁ ရှယ်ယာ (၀.၁%) ၊ တန်ဖိုးအားဖြင့် ကျပ် ၁,၀၀၀ ကို Mr. Ng Ooi Hooi မှ Eden Hotels & Resort Co., Ltd.၏ ရှယ်ယာရှင်

**WISELAND INVESTMENT (MYANMAR) LTD**
No 23/25, Kaba Aye Pagoda Road, Golden Valley Ward (2)
Bahan Township, Yangon, Myanmar
Tel: +951-8603205
Fax: +951-8603328

တစ်ဦးဖြစ်သည့် ဦးဂဏ္ဏခိုင်သို့ သီးခြားလွှဲပြောင်းခြင်းအနေဖြင့်လည်းကောင်း ၊ လွှဲပြောင်းပေးခြင်း လုပ်ငန်းစဉ်ကို ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာနတွင် ၂၀၁၇ ခုနှစ် ၊ ဇူလိုင်လ ၂၈ ရက်နေ့၌ ဆောင်ရွက်ခဲ့ပါသည် ။

၉။ Wiseland Investment (Myanmar) Ltd. နှင့် Eden Hotels & Resort Co., Ltd. တို့အကြား ချုပ်ဆိုခဲ့သည့် Sales and Purchase Agreement (SPA) အရ ရှယ်ယာများနှင့် ရှယ်ယာရှင် ချေးငွေများကို ရောင်းချမှု / ဝယ်ယူမှုတွင် အောက်ပါအတိုင်း ငွေပေးချေရန် သဘောတူညီပါသည် -

(က) **အမေရိကန်ဒေါ်လာ ၄၀၅,၀၀၀/-** ကို ၂၆.၃.၂၀၁၆ ရက်နေ့တွင် ပေးချေရန် (အရောင်းအဝယ်စာချုပ် သေချာရန်အတွက် ပေးချေရသောငွေ)

(ခ) **အမေရိကန်ဒေါ်လာ ၉,၈၄၅,၀၀၀/-** ကို စာချုပ် ချုပ်ဆိုပြီး အလုပ်လုပ်ရက် (၅) ရက်အတွင်း ပေးချေရန် ။ (စရံငွေ)

(ဂ) **အမေရိကန်ဒေါ်လာ ၄,၁၀၀,၀၀၀/-** ကို (၃) ဦးစာချုပ် ချုပ်ဆိုပြီး ချိန်တွင် ပေးချေရန် ။ (ဟိုတယ်နှင့် ခရီးသွားညွှန်ကြားမှုဦးစီးဌာန ၊ Wiseland Investment (Myanmar) Ltd. နှင့် Eden Group Co., Ltd တို့အကြားချုပ်ဆိုသည့် စာချုပ်ချုပ်ဆိုမှုအပြီး ပေးချေရန်ငွေ)

(ဃ) **အမေရိကန်ဒေါ်လာ ၁၄,၃၅၀,၀၀၀/-** ကို (၃) ဦးစာချုပ် ချုပ်ဆိုပြီး (၆) လ ကြာမြင့်ချိန်တွင် ပေးချေရန် ။ (ဒုတိယအရစ် ပေးချေရန်ငွေ)

(င) **အမေရိကန်ဒေါ်လာ ၁၂,၃၀၀,၀၀၀/-** ကို (၃) ဦးစာချုပ် ချုပ်ဆိုပြီး (၁၅) လကြာ ချိန်တွင် ပေးချေရန် ။ (စတုတ္ထအရစ် ပေးချေရန်ငွေ)

သို့ဖြစ်ပါ၍ လုပ်ငန်းလွှဲပြောင်းမှုအတွက် လက်ရှိလွှဲပြောင်း ရယူသော အစုရှယ်ယာရှင်များမှ ယခင်ရှယ်ယာရှင်များသို့ ပေးချေမည့် ငွေစုစုပေါင်းမှာ **အမေရိကန်ဒေါ်လာ ၄၁ သန်း (မြန်မာကျပ်ငွေ ၅၃,၃၀၀ သန်း)** ဖြစ်ပါသည် ။

၁၀။ ဟိုတယ်လုပ်ငန်းဆောင်ရွက်ရန် လိုအပ်သော ထပ်မံ မွမ်းမံမှုများအတွက်လည်း ရင်းနှီးမြှုပ်နှံမှု **အမေရိကန်ဒေါ်လာ ၁၅ သန်း (မြန်မာကျပ်ငွေ ၁၉,၅၀၀ သန်း)** အား **တည်ဆောက်မှုကာလ သို့မဟုတ် ရင်းနှီးမြှုပ်နှံမှုလုပ်ငန်း ပြင်ဆင်ကာလ (၂ နှစ်)** အတွင်း အောက်ပါအတိုင်း ထပ်မံ ရင်းနှီးမြှုပ်နှံမည် ဖြစ်ပါသည် -

16/1

**WISELAND INVESTMENT (MYANMAR) LTD**
No 23/25, Kaba Aye Pagoda Road, Golden Valley Ward (2)
Bahan Township, Yangon, Myanmar
Tel: +951-8603205
Fax: +951-8603328

| စဉ် | အကြောင်းအရာ | တန်ဖိုး (အမေရိကန်ဒေါ်လာ- သန်း) |
|---|---|---|
| ၁။ | အဆောက်အဦး မွမ်းမံပြင်ဆင်မှုကုန်ကျစရိတ် | ၁၀.၂၁ |
| ၂။ | စက်ပစ္စည်းများ ထပ်မံဝယ်ယူမှုကုန်ကျစရိတ် | ၀.၆၇ |
| ၃။ | ဟိုတယ်သုံး ပရိဘောဂများဝယ်ယူမှု ကုန်ကျစရိတ် | ၂.၃၆ |
| ၄။ | ဟိုတယ်သုံး ပစ္စည်းများ ဝယ်ယူမှုကုန်ကျစရိတ် | ၁.၇၇ |
| | ~~**စုစုပေါင်း ထပ်မံရင်းနှီးမြှုပ်နှံသည့် ပမာဏ**~~ | ~~၁၅.၀၀~~ |

၁၁။ သို့ဖြစ်ပါ၍ လက်ရှိလွှဲပြောင်း ရယူသော အစုရှယ်ယာရှင်များ၏ စုစုပေါင်း ရင်းနှီးမြှုပ်နှံမှု ပမာဏမှာ **အမေရိကန်ဒေါ်လာ ၅၆ သန်း (မြန်မာကျပ်ငွေ ၇၂,၈၀၀ သန်း)** ဖြစ်ပြီး ထည့်ဝင်မှုပုံစံမှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

| စဉ် | ရင်းနှီးမြှုပ်နှံမှု ထည့်ဝင်မည့် ကုမ္ပဏီအမည်နှင့် ရင်းနှီးမြှုပ်နှံမှု အမျိုးအစား | ထည့်ဝင်မည့် ရှယ်ယာအရေအတွက် | ရင်းနှီးငွေ ထည့်ဝင်မည့် ပမာဏ (USD) | ရင်းနှီးငွေ ထည့်ဝင်မည့် ပမာဏ (မြန်မာကျပ်အားဖြင့်) |
|---|---|---|---|---|
| ၁ | "Eden Hotels & Resort Co., Ltd." မှ ထည့်ဝင်သည့် ငွေကြေးတန်ဖိုးအားဖြင့် ရင်းနှီးမြှုပ်နှံမှုပမာဏ | ၇၂,၇၉၉,၉၉၉ | ၅၅,၉၉၉,၉၉၉·၂၃၁ | ၇၂,၇၉၉,၉၉၉,၀၀၀.၀၀ |
| ၂ | "**ဦးဝဏ္ဏနိုင်**" မှ ထည့်ဝင်သည့် ငွေကြေးတန်ဖိုးအားဖြင့် ရင်းနှီးမြှုပ်နှံမှုပမာဏ | ၁ | ၀.၇၆၉ | ၁,၀၀၀.၀၀ |
| | **စုစုပေါင်း ရင်းနှီးငွေ(အမေရိကန်ဒေါ်လာ)** | | ၅၆,၀၀၀,၀၁၀.၀၀ | ၇၂,၈၀၀,၀၀၀,၀၀၀.၀၀ |

၁၂။ ဤရင်းနှီးမြှုပ်နှံမှုလုပ်ငန်းတွင် လုပ်သားအင်အား ခန့်အပ်မှုအခြေအနေအားဖြင့် ယခင် Wiseland Investment (Myanmar) Ltd. မှ ခန့်အပ်ထားသော ဝန်ထမ်းများကို ဆက်လက်ခန့်အပ် သွားမည်ဖြစ်ပြီး၊ အသစ်များလည်း ထပ်မံခန့်အပ်သွားမည်ဖြစ်ရာ ၊ စုစုပေါင်း ဝန်ထမ်းအင်အား အနေဖြင့် ပြည်တွင်း မှ (၂၇၇) ဦး နှင့် နိုင်ငံခြားသား ကျွမ်းကျင်ပညာရှင် (၆) ဦးတို့ကို ခန့်အပ်သွားရန် ရည်ရွယ်ပါသည် ။

16/1

**WISELAND INVESTMENT (MYANMAR) LTD**
No 23/25, Kaba Aye Pagoda Road, Golden Valley Ward (2)
Bahan Township, Yangon, Myanmar
Tel: +951-8603205
Fax: +951-8603328

၁၃။ ထို့နောက် အထက်ပါ ရင်းနှီးမြှုပ်နှံမှုတွင် အပြည်ပြည်ဆိုင်ရာ ဟိုတယ်ဝန်ဆောင်မှုများ ဆောင်ရွက်နေသော Hilton IP ၏ License နှင့် Management Service တို့ကို ရယူဆောင်ရွက် သွားမည်ဖြစ်ပါသည်။ သက်ဆိုင်ရာ စာချုပ်များအား အဆိုပြုလွှာတွင် ပူးတွဲထားပါသည်။ သို့ဖြစ်ပါ၍ Sedona Manadalay Hotel ကိုလည်း **"Hilton Mandalay Hotel"** အမည်ဖြင့် ပြောင်းလဲလုပ်ကိုင်သွားမည်ဖြစ်ပါသည်။

၁၄။ အဆိုပါ ဟိုတယ်လုပ်ငန်းအတွက် မြေပိုင်ရှင်ဖြစ်သော ဟိုတယ်နှင့် ခရီးသွားညွှန်ကြားမှုဦးစီး ဌာနသို့ နှစ်စဉ်မြေငှားရမ်းခကို နှစ်ဦးနှစ်ဖက် သဘောတူညီထားသည့်အတိုင်း အမေရိကန်ဒေါ်လာ ၄၆၂,၀၀၀/- (အမေရိကန်ဒေါ်လာ လေးသိန်းခြောက်သောင်းနှစ်ထောင်တိတိ)ကို ပေးချေသွားမည်ဖြစ်ပါသည်။မြေငှားရမ်းကာလနှင့်စပ်လျဉ်း၍ Wiseland Investment (Myanmar) Ltd. ၏ MIC Permit သက်တမ်းအရ ၊ ငှားရမ်းကာလသည် ၂၀၅၀ ခုနှစ် ဇန်နဝါရီလ(၂၄)ရက်တွင် ကုန်ဆုံးမည်ဖြစ်ရာ၊ အဆိုပါငှားရမ်းကာလအား ဤအဆိုပြုလွှာကို ခွင့်ပြုချက်ရရှိပြီး ၊ ပြင်ဆင်မှုကာလ (၂) နှစ်ပြီးဆုံး ချိန်ဖြစ်သော ၂၀၂၀ ခုနှစ် ဇန်နဝါရီလ မှစတင်၍ နှစ် (၅၀) ဖြစ်သော ၂၀၇၀ ခုနှစ် ၊ ဇန်နဝါရီလထိ ပြောင်းလဲသတ်မှတ်ပေးနိုင်ပါရန်လည်း တင်ပြအပ်ပါသည် ။

၁၅။ ယခုအခါ Wiseland Investment (Myanmar) Ltd. ၏ရှယ်ယာများအားလုံးကို လွှဲပြောင်းရယူပြီးဖြစ်၍ ၊ Wiseland Investment (Myanmar) Co., Ltd ၏အမည်ပြောင်းလဲခြင်း လုပ်ငန်းစဉ်များကိုလည်း ဆက်လက်လုပ်ဆောင်သွားမည်ဖြစ်ပါသည် ။ယခုလက်ရှိအချိန်တွင် ဖော်ပြပါ Wiseland Investment (Myanmar) Ltd, EDEN Group Co., Ltd နှင့် EDEN Hotels and Resort Co., Ltd တို့မှာ ရှယ်ယာရှင်များ အားလုံးတူညီသော မိသားစုပိုင် လုပ်ငန်းများဖြစ်ပါကြောင်း ဖော်ပြအပ်ပါသည် ။

၁၆။ သို့ဖြစ်ပါ၍ ၊ Wiseland Investment (Myanmar) Ltd. ၏ မန္တလေးမြို့ ၊ချမ်းအေးသာဇံ မြို့နယ်၊ ၂၆ လမ်း နှင့် ၆၆ လမ်းထောင့်တွင် တည်ရှိသော Sedona Mandalay Hotel ကို ပြန်လည်ဝယ်ယူ၍ ထပ်မံ ရင်းနှီးမြှုပ်နှံမှုများပြုလုပ်ကာ ၊**"Hilton Mandalay Hotel"** အမည်ဖြင့် နိုင်ငံတကာအဆင့်မီ ဟိုတယ်တစ်ခုအဖြစ် ပြောင်းလဲလုပ်ကိုင် ဆောင်ရွက်သွားမည်ကို ခွင့်ပြုပေးနိုင်ပါရန် အဆိုပြုလွှာအား လေးစားစွာဖြင့် တင်ပြအပ်ပါသည် ။

ရိုသေလေးစားစွာဖြင့်
လျှောက်ထားသူ

**(ချစ်ခိုင်)**
**အဆိုပြုဒါရိုက်တာ**
WISELAND INVESTMENT (MYANMAR) LIMITED

**WISELAND INVESTMENT (MYANMAR) LTD**
No 23/25, Kaba Aye Pagoda Road, Golden Valley Ward (2)
Bahan Township, Yangon, Myanmar
Tel: +951-8603205
Fax: +951-8603328

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁) ၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။

ရက်စွဲ။ ။ ၂၀၁၈ ခုနှစ်၊ ဇန်နဝါရီလ (၁၂) ရက်။

---

အကြောင်းအရာ ။ ။**ရင်းနှီးမြှုပ်နှံမှုအဆိုပြုချက် တင်ပြခြင်းတွင် ကုမ္ပဏီအမည် သုံးစွဲခြင်းနှင့် စပ်လျဉ်း၍ ရှင်းလင်းတင်ပြခြင်း ။**

လေးစားရပါသောလူကြီးမင်းခင်ဗျား ။ ။

၁။ ကျွန်တော်တို့၏ "**ဝိုက်(စ်)လန်း အင်ဗက်(စ်)မန့် (မြန်မာ) လီမိတက်**" "WISELAND INVESTMENT (MYANMAR) LIMITED" သည် ဟိုတယ်နှင့်ခရီးသွားလာရေးဝန်ကြီးဌာန၊ ဟိုတယ်နှင့်ခရီးသွား ညွှန်ကြားမှု ဦးစီးဌာနပိုင်မြေဖြစ်သည့် မန္တလေးတိုင်းဒေသကြီး၊ မန္တလေးမြို့ ၊ ချမ်းအေးသာဇံမြို့နယ် ၊ ၂၆ လမ်း နှင့် ၆၆ လမ်း ထောင့်တွင် တည်ရှိသော ဧရိယာ (၄.၂၂၇ ဧက) အကျယ်အဝန်းမြေကွက်ပေါ်ရှိ (၁၉၈၃၅ စတုရန်းမီတာ) အကျယ်အဝန်းရှိသော အဆောက်အအုံတွင် "**ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း**" ဆောင်ရွက်ရန်အတွက် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်ရယူရန် ရင်းနှီးမြှုပ်နှံမှုအဆိုပြုချက် ပေးပို့တင်ပြ လျှောက်ထားသောကုမ္ပဏီ ဖြစ်ပါသည်။

၂။ **ဝိုက်(စ်)လန်း အင်ဗက်(စ်)မန့် (မြန်မာ) လီမိတက်**" "WISELAND INVESTMENT (MYANMAR) LIMITED" မှာ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၃.၇.၁၉၉၅ ရက်စွဲပါ ခွင့်ပြုမိန့် အမှတ်(၁၅၀/၉၅) ဖြင့် SEDONA MANDALAY HOTEL အား ရာနှုန်းပြည့် နိုင်ငံခြားသား ရင်းနှီးမြှုပ်နှံသော ကုမ္ပဏီအနေဖြင့် တည်ထောင် ဆောင်ရွက်ခဲ့ပါသည်။

၃။ ထို့နောက် အဆိုပါ WISELAND INVESTMENT (MYANMAR) LIMITED ၏ ရှယ်ယာရှင် ရင်းနှီးမြှုပ်နှံသူများအနေဖြင့် အဆိုပါ SEDONA MANDALAY HOTEL ကိုဆက်လက်လုပ်ကိုင်လိုခြင်း မရှိတော့ပါသဖြင့် လွှဲပြောင်းရောင်းချခွင့်အား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြခွင့်ပြုချက် တောင်းခံခဲ့ရာ ၂၀၁၆ ခုနှစ် ၊ ဩဂုတ်လ ၁၉ ရက်နေ့တွင်ကျင်းပသော အစည်းအဝေးအမှတ်စဉ် (၁၅/၂၀၁၆) ၏ ဆုံးဖြတ်ချက်အရ ၊ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၁၆ ခုနှစ် ၊ ဩဂုတ်လ ၂၅ ရက်စွဲပါ စာအမှတ် မရက -၉ /န/ ၂၀၁၆ (ဂ၉၃၉) ဖြင့် ခွင့်ပြုချက် ရရှိခဲ့ပါသည်။

**WISELAND INVESTMENT (MYANMAR) LTD**
No 23/25, Kaba Aye Pagoda Road, Golden Valley Ward (2)
Bahan Township, Yangon, Myanmar
Tel: +951-8603205
Fax: +951-8603328

၄။ ဤဆုံးဖြတ်ချက်နှင့်အညီ လွှဲပြောင်းခြင်းအားဆောင်ရွက်ရန် Deed of Assignment on Transfer of all Legal Rights and Liabilities စာချုပ်ကို ၂၀၁၇ ခုနှစ် ၊ ဖေဖော်ဝါရီလ ၁ ရက်နေ့တွင် ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှုဦးစီးဌာန ၊ Wiseland Investment (Myanmar) Ltd. နှင့် EDEN Group Co., Ltd တို့အကြား လက်မှတ်ရေးထိုး စာချုပ်ချုပ်ဆိုခဲ့ကြပါသည်။

၅။ အထက်ဖော်ပြပါ စာရွက်စာတမ်း လက်မှတ်ရေးထိုးချိန်တွင် "ဝိုက်(စ်)လန်း အင်ဗက်(စ်)မန့် (မြန်မာ) လီမိတက်" "WISELAND INVESTMENT (MYANMAR) LIMITED" ၏ အစုရှယ်ယာ လွှဲပြောင်းခြင်းများ မဆောင်ရွက်မှီ ဖြစ်ပါသဖြင့် အများစုရှယ်ယာ (၉၉.၉ %) အား လွှဲပြောင်းယူမည့် မြန်မာနိုင်ငံသားပိုင် Eden Hotels & Resort Co., Ltd. နှင့် ကျန် (၀.၁%) ရှယ်ယာအား လွှဲပြောင်းရယူမည့် Eden Hotels & Resort Co., Ltd. နှင့် Eden Group Co., Ltd. တို့၏ ရှယ်ယာရှင် ဒါရိုက်တာတစ်ဦးဖြစ်သည့် ဦးဂဏ္ဍာခိုင်တို့၏ ကိုယ်စားပြု အနေဖြင့် Eden Group Co., Ltd. မှပင် ဆောင်ရွက်ခဲ့ရခြင်း ဖြစ်ပါသည်။

၆။ ယခုအခါ အစုရှယ်ယာ လွှဲပြောင်းခြင်းများလည်း ဆောင်ရွက်ပြီးဖြစ်သည့်အားလျော်စွာ နိုင်ငံသား ၁၀၀ ရာခိုင်နှုန်းပိုင် ကုမ္ပဏီအဖြစ် ကုမ္ပဏီမှတ်ပုံတင်လက်မှတ်အား ပြောင်းလဲရန်ကိစ္စရပ်များ အားလည်း ဆောင်ရွက်လျက်ရှိပါသည်။ သို့ဖြစ်ပါ၍ ယခုအဆိုပြုတင်ပြသော ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရန် အဆိုပြုလွှာအား "ဝိုက်(စ်)လန်း အင်ဗက်(စ်)မန့် (မြန်မာ) လီမိတက်" "WISELAND INVESTMENT (MYANMAR) LIMITED" အမည်ဖြင့်ပင် ခွင့်ပြုမိန့်ရယူရန် ဆန္ဒရှိပါသဖြင့် အဆိုပြုလွှာအား ထိုကုမ္ပဏီအမည်ဖြင့် တင်ပြခြင်း ဖြစ်ပါကြောင်း လေးစားစွာ ရှင်းလင်းတင်ပြအပ်ပါသည်။

ရိုသေလေးစားစွာဖြင့်
လျှောက်ထားသူ

( ချစ်ခိုင် )
အဆိုပြုဒါရိုက်တာ
WISELAND INVESTMENT (MYANMAR) LIMITED

၁၈/၁

**WISELAND INVESTMENT (MYANMAR) LTD**
No 23/25, Kaba Aye Pagoda Road, Golden Valley Ward (2)
Bahan Township, Yangon, Myanmar
Tel: +951-8603205
Fax: +951-8603328

**လုပ်သားများ၏ လူမှုဖူလုံရေး၊ သက်သာချောင်ချိရေးဆောင်ရွက်မည့် အစီအမံများ**

၁။ ကျွန်တော်တို့၏ **"ဝိုက်(စ်)လန်း အင်ဗက်(စ်)မန့် (မြန်မာ) လီမိတက်" "WISELAND INVESTMENT (MYANMAR) LIMITED"** သည် ဟိုတယ်နှင့်ခရီးသွားလာရေးဝန်ကြီးဌာန၊ ဟိုတယ်နှင့်ခရီးသွား ညွှန်ကြားမှု ဦးစီးဌာနပိုင်မြေဖြစ်သည့် မန္တလေးတိုင်းဒေသကြီး၊ မန္တလေးမြို့ ၊ ချမ်းအေးသာဇံမြို့နယ် ၊ ၂၆ လမ်း နှင့် ၆၆ လမ်း ထောင့်တွင် တည်ရှိသော ဧရိယာ (၄.၂၂၇ ဧက) အကျယ်အဝန်းမြေကွက်ပေါ်ရှိ (၁၉၈၃၅ စတုရန်းမီတာ) အကျယ်အဝန်းရှိသော အဆောက်အအုံတွင် **"ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း"** ဆောင်ရွက်ရန်အတွက် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်ရယူရန် ရင်းနှီးမြှုပ်နှံမှုအဆိုပြုချက် ပေးပို့တင်ပြ လျှောက်ထားသောကုမ္ပဏီ ဖြစ်ပါသည်။

၂။ ယခင် **"ဝိုက်(စ်)လန်း အင်ဗက်(စ်)မန့် (မြန်မာ) လီမိတက်" "WISELAND INVESTMENT (MYANMAR) LIMITED"** မှာ ရာနှုန်းပြည့် နိုင်ငံခြားသား ရင်းနှီးမြှုပ်နှံသော ကုမ္ပဏီဖြစ်ပါသည်။ ယခုအခါ မြန်မာနိုင်ငံသားပိုင် **Eden Hotels & Resort Co., Ltd.** မှ အများစုရှယ်ယာဖြစ်သော ရှယ်ယာ (၉၉.၉ %) နှင့် မြန်မာနိုင်ငံသားဖြစ်သော ဦးဂဏ္ဍာခိုင်မှ ကျန် (၀.၁%) ရှယ်ယာအား လွှဲပြောင်းရယူပြီးဖြစ်ပါသဖြင့် ရှယ်ယာ ရာနှုန်းပြည့်မှာ မြန်မာနိုင်ငံသားမှ ပိုင်ဆိုင်ပြီးဖြစ်ပါသည်။ အဆိုပါ လွှဲပြောင်းခြင်းလုပ်ငန်း မဆောင်ရွက်မီတွင် **ဝိုက်(စ်)လန်း အင်ဗက်(စ်)မန့် (မြန်မာ) လီမိတက်"** "WISELAND INVESTMENT (MYANMAR) LIMITED" မှာ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်ဖြင့် **SEDONA MANDALAY HOTEL** အား တည်ထောင် ဆောင်ရွက်ခဲ့ပါသည်။

၃။ ထို့နောက် ရင်းနှီးမြှုပ်နှံမှုများ ထပ်မံထည့်ဝင်ခြင်း လိုအပ်သည်များ မွမ်းမံခြင်းများအား ဆောင်ရွက်ကာ အပြည်ပြည်ဆိုင်ရာ ဟိုတယ်ဝန်ဆောင်မှုများ ဆောင်ရွက်နေသော Hilton IP ၏ License နှင့် Management Service တို့ကို ရယူဆောင်ရွက် သွားမည်ဖြစ်ပါသည်၊ သို့ဖြစ်ပါ၍ ယခင် လုပ်ဆောင်ခဲ့သော Sedona Manadalay Hotel အားလည်း **"Hilton Mandalay Hotel"** အမည်ဖြင့် ပြောင်းလဲလုပ်ကိုင်သွားမည် ဖြစ်ပါသည်။

၄။ ထိုသို့ ဟိုတယ်ဝန်ဆောင်လုပ်ငန်းဆောင်ရွက်ရာတွင် ပြည်တွင်း၊ပြည်ပရှိ အတတ်ပညာရှင်များ၊ ဟိုတယ်လည်ပတ်ရန် လိုအပ်သော အခန်းကဏ္ဍများအတွက် ကျွမ်းကျင်ဝန်ထမ်းများ ၊ ရုံးဝန်ထမ်းများ ခန့်အပ်၍ ဆောင်ရွက်မည်ဖြစ်ပြီး ထိုဝန်ထမ်းများ လုပ်ငန်းခွင်သာယာရေးအနေဖြင့် နေ့ထူးနေ့မြတ်များတွင် ပျော်ပွဲရွှင်ပွဲများ ပြုလုပ်ပေးခြင်း ၊ ပညာဗဟုသုတများ တိုးတက်စေရန် သင်တန်းများအား စီစဉ်ဆောင်ရွက်ပေးခြင်း၊ လုပ်ငန်း စွမ်းဆောင်ရည်အလိုက် ထူးချွန်ဆုချီးမြှင့်ပေးခြင်းများ၊ သာရေးနာရေးဆိုင်ရာ ကိစ္စရပ်များတွင် ပံ့ပိုးကူညီ ပေးခြင်းများ စသည်တို့ကို ပြုလုပ်ပေးသွားမည်ဖြစ်ကြောင်း လေးစားစွာဖြင့် တင်ပြအပ်ပါသည်။

**WISELAND INVESTMENT (MYANMAR) LTD**
No 23/25, Kaba Aye Pagoda Road, Golden Valley Ward (2)
Bahan Township, Yangon, Myanmar
Tel: +951-8603205
Fax: +951-8603328

၅။ ကျွန်တော်တို့ကုမ္ပဏီအနေဖြင့် လုပ်ငန်းတိုးတက်စေရန် လုပ်ငန်းကျွမ်းကျင်မှုဆိုင်ရာ လေ့ကျင့်သင်ကြားပေးခြင်းများအား ပုံမှန် စနစ်တကျ ဆောင်ရွက်သွားမည်ဖြစ်ပါသည်။ဝန်ထမ်းများနာမကျန်းဖြစ်ပါက အရေးပေါ်ကုသနိုင်ရေးအတွက် ဆေးနှင့် ဆေးအထောက်အကူပြု ပစ္စည်းများကိုလည်း လုပ်ငန်းနေရာတွင် ထားရှိမည့်အပြင် ဝန်ထမ်းများ စားသောက်ရေးတွင် ကျန်းမာရေးနှင့်ညီညွတ်စေရေးသော ဟင်းလျာများ ရရှိစေရန် အတွက် ထည့်သွင်းစဉ်းစားကာ စီစဉ်ဆောင်ရွက်ပေးထားခြင်း၊ လူမှုဖူလုံရေးကြေးများကို ထည့်ဝင်ပေးကာ ဝန်ထမ်းများ၏ လူမှုဖူလုံရေးအတွက် အပြည့်အဝဆောင်ရွက်ပေးခြင်း စသည်များကိုလည်း ဆောင်ရွက်သွားမည် ဖြစ်ပါကြောင်း တင်ပြအပ်ပါသည်။ လုပ်ငန်းစွမ်းဆောင်ရည်ပေါ်မူတည်ကာ နှစ်စဉ်အပိုဆု ချီးမြှင့်ခြင်းများအားလည်း ဆောင်ရွက်လျက် သာယာသော လုပ်ငန်းခွင်အား တည်ဆောက်မည်ဖြစ်ပါသည်။

၆။ ကျွန်တော်တို့ ကုမ္ပဏီ၏ လူမှုရေးဆိုင်ရာတာဝန်ယူမှုများ (Corporate Social Responsibility - CSR) အနေဖြင့် နိုင်ငံတော်အတွက် အခွန်ဘဏ္ဍာငွေများ ထမ်းဆောင်ပြီးနောက် ကျန်ရှိသော အသားတင်အမြတ်၏ (၂) ရာခိုင်နှုန်း ကို နေပြည်တော်တိုင်းဒေသကြီးတွင် Hilton မှ ကြီးကြပ်ကွပ်ကဲပေးမည့် ကမ္ဘာ့အဆင့် Hospitality Training Center ကို တည်ထောင်ဆောင်ရွက်ခြင်းအား လုပ်ကိုင်မည် ဖြစ်ပါကြောင်း တင်ပြအပ်ပါသည်။

၇။ သို့ဖြစ်ပါ၍ ကျွန်တော်တို့၏ "ဝိုက်(စ်)လန်း အင်ဗက်(စ်)မန့် (မြန်မာ) လီမိတက်" "WISELAND INVESTMENT (MYANMAR) LIMITED" ၏ အဆိုပြုချက်ကို ဆောလျင်စွာ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် ခွင့်ပြုမိန့်ဖြင့် ဆောင်ရွက်ခွင့်ပေးပါရန် မေတ္တာရပ်ခံတင်ပြအပ်ပါသည်။

ရိုသေလေးစားစွာဖြင့်
လျှောက်ထားသူ

( ချစ်ခိုင် )
အဆိုပြုဒါရိုက်တာ
WISELAND INVESTMENT (MYANMAR) LIMITED

**WISELAND INVESTMENT (MYANMAR) LTD**
No 23/25, Kaba Aye Pagoda Road, Golden Valley Ward (2)
Bahan Township, Yangon, Myanmar
Tel: +951-8603205
Fax: +951-8603328

**ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းပြုလုပ်မည့် အစီအမံများ**

၁။ ကျွန်တော်တို့၏ **"ဝိုက်(စ်)လန်း အင်ဗက်(စ်)မန့် (မြန်မာ) လီမိတက်"** "**WISELAND INVESTMENT (MYANMAR) LIMITED**" သည် ဟိုတယ်နှင့်ခရီးသွားလာရေးဝန်ကြီးဌာန၊ ဟိုတယ်နှင့်ခရီးသွား ညွှန်ကြားမှုဦးစီး ဌာနပိုင်မြေဖြစ်သည့် မန္တလေးတိုင်းဒေသကြီး၊ မန္တလေးမြို့ ၊ ချမ်းအေးသာဇံမြို့နယ် ၊ ၂၆ လမ်း နှင့် ၆၆ လမ်းထောင့် တွင် တည်ရှိသော ဧရိယာ (၄.၂၂၇ ဧက) အကျယ်အဝန်းမြေကွက်ပေါ်ရှိ (၁၉၈၃၅ စတုရန်းမီတာ) အကျယ်အဝန်းရှိသော အဆောက်အအုံတွင် **"ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း"** ဆောင်ရွက်ရန်အတွက် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်ရယူရန် ရင်းနှီးမြှုပ်နှံမှုအဆိုပြုချက် ပေးပို့တင်ပြ လျှောက်ထားသောကုမ္ပဏီ ဖြစ်ပါသည်။

၂။ ယခင် **"ဝိုက်(စ်)လန်း အင်ဗက်(စ်)မန့် (မြန်မာ) လီမိတက်"** "**WISELAND INVESTMENT (MYANMAR) LIMITED**" မှာ ရာနှုန်းပြည့် နိုင်ငံခြားသား ရင်းနှီးမြှုပ်နှံသော ကုမ္ပဏီဖြစ်ပါသည်။ ယခုအခါ မြန်မာနိုင်ငံသားပိုင် **Eden Hotels & Resort Co., Ltd.** မှ အများစုရှယ်ယာဖြစ်သော ရှယ်ယာ (၉၉.၉ %) နှင့် မြန်မာနိုင်ငံသားဖြစ်သော ဦးဂဏ္ဍာခိုင်မှ ကျန် (၀.၁%) ရှယ်ယာအား လွှဲပြောင်းရယူပြီးဖြစ်ပါသဖြင့် ရှယ်ယာ ရာနှုန်းပြည့်မှာ မြန်မာနိုင်ငံသားမှ ပိုင်ဆိုင်ပြီးဖြစ်ပါသည်။ အဆိုပါလွှဲပြောင်းခြင်းလုပ်ငန်း မဆောင်ရွက်မီတွင် **ဝိုက်(စ်)လန်း အင်ဗက်(စ်)မန့် (မြန်မာ) လီမိတက်**" "WISELAND INVESTMENT (MYANMAR) LIMITED" မှာ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်ဖြင့် **SEDONA MANDALAY HOTEL** အား တည်ထောင် ဆောင်ရွက်ခဲ့ပါသည်။

၃။ ထို့နောက် ရင်းနှီးမြှုပ်နှံမှုများ ထပ်မံထည့်ဝင်ခြင်း လိုအပ်သည်များ မွမ်းမံခြင်းများအား ဆောင်ရွက်ကာ အပြည်ပြည်ဆိုင်ရာ ဟိုတယ်ဝန်ဆောင်မှုများ ဆောင်ရွက်နေသော Hilton IP ၏ License နှင့် Management Service တို့ကို ရယူဆောင်ရွက်သွားမည်ဖြစ်ပါသည်။ သို့ဖြစ်ပါ၍ ယခင် လုပ်ဆောင်ခဲ့သော Sedona Manadalay Hotel အားလည်း **"Hilton Mandalay Hotel"** အမည်ဖြင့် ပြောင်းလဲလုပ်ကိုင်သွားမည် ဖြစ်ပါသည်။

၄။ ကျွန်တော်တို့၏ ကုမ္ပဏီအနေဖြင့် ပတ်ဝန်းကျင် သန့်ရှင်းသာယာမှုရှိစေရေးအတွက် လုပ်ငန်းမှ သုံးစွဲသည့်ရေများ စနစ်တကျရှိစေရန် ရေနုတ်မြောင်းများထားရှိခြင်း၊ စွန့်ပစ်အမှိုက်များအတွက် ဟိုတယ်၏ နေရာအနှံ့အပြားတွင် အမှိုက်ပုံးများထားရှိပေးခြင်းနှင့် လုပ်ငန်းခွင်စွန့်ပစ်အမှိုက်များအတွက်လည်း သက်ဆိုင်ရာ စည်ပင်သာယာရေးကော်မတီမှချမှတ်ထားသော စည်းမျဉ်းစည်းကမ်းများအတိုင်း လိုက်နာ ဆောင်ရွက်စွန့်ပစ်ရန် စနစ်တကျ စီစဉ်ဆောင်ရွက်ပေးသွားမည်ပါသည်။ လေထုညစ်ညမ်းမှု၊ ဘေးပတ်ဝန်းကျင် အနှောက်အယှက် ဖြစ်မှုများ မဖြစ်ပေါ်အောင်လည်း တတ်နိုင်သမျှ စီစဉ်ဆောင်ရွက်သွားမည်ဖြစ်ပါသည်။ ဟိုတယ်သောက်သုံးရေ နှင့်

**WISELAND INVESTMENT (MYANMAR) LTD**
No 23/25, Kaba Aye Pagoda Road, Golden Valley Ward (2)
Bahan Township, Yangon, Myanmar
Tel: +951-8603205
Fax: +951-8603328

တည့်ခင်းသော စားသောက်ဖွယ်ရာများ၏ သန့်ရှင်းရေးကိုလည်း အထူးအလေးထား ဆောင်ရွက်မည်ဖြစ်ပါသည်။ ရေကူးကန်ကဲ့သို့သော ဟိုတယ်၏ မရှိမဖြစ် လိုအပ်ချက်များတွင်လည်း တည်းခိုသူများ ကျန်းမာရေးနှင့် ညီညွတ်စေရန် အထူးအလေးပေး ထိန်းသိမ်းမည် ဖြစ်ပါသည်။

၅။ ကျွန်တော်တို့၏ ကုမ္ပဏီအနေဖြင့် လုပ်ငန်းများဆောင်ရွက်ရာတွင် မီးဘေးကာကွယ်ရေးနှင့် စပ်လျဉ်း၍ ဟိုတယ်အဆောက်အအုံတွင် မီးဘေးကာကွယ်ရေးစနစ်များ တပ်ဆင်သွားမည် ဖြစ်ပါသည်။ မီးငြိမ်းသတ်ရန်အတွက် လိုအပ်သည့် ပစ္စည်းများအားလည်း မီးသတ်ဌာန၏ လမ်းညွှန်ချက်များအတိုင်း တပ်ဆင်ဆောင်ရွက်မည်ဖြစ်ပါသည်။ ဟိုတယ်အတွင်း၊ အပြင် အားလုံးတွင် မီးပေါ့ဆမှု မဖြစ်ပေါ်စေရန်လည်း ပညာပေးခြင်း၊ လေ့ကျင့်မှုများပြုလုပ်ပေးခြင်းနှင့် စည်းကမ်းသတ်မှတ်ချက်များလည်းထားရှိသွားမည်ဖြစ်ပါသည်။ ဟိုတယ် ဧရိယာအတွင်း အရေးပေါ်မီးဘေးကာကွယ်မှုအတွက် မီးသတ်ဆေးဘူးများကို အလုံအလောက် အဆင်သင့်ထားရှိသွားမည် ဖြစ်ပါသည်။

၆။ ဆေးလိပ်သောက်ခြင်းအား နေရာသီးခြား ကန့်သတ်ထားမည်ဖြစ်ပြီး တည်းခိုသူများ၏ ကျန်းမာရေးအတွက် ဂရုပြုဆောင်ရွက်သွားမည် ဖြစ်ပါသည်။ လျှပ်စစ်နှင့်ပတ်သက်၍ မီးဘေးအန္တရာယ်များ မဖြစ်ပေါ်အောင် စနစ်တကျသုံးစွဲရန် လမ်းညွှန်မှုများ ချမှတ်ဆောင်ရွက်ထားရှိမည်ဖြစ်ပါကြောင်း လေးစားစွာ တင်ပြအပ်ပါသည်။

ရိုသေလေးစားစွာဖြင့်
လျှောက်ထားသူ

( ချစ်ခိုင် )
အဆိုပြုဒါရိုက်တာ
WISELAND INVESTMENT (MYANMAR) LIMITED

ပုံစံ (၂)

## ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အတွင်းရင်းနှီးမြှုပ်နှံမှုပြုလုပ်ရန်

## ရင်းနှီးမြှုပ်နှံသူ၏အဆိုပြုချက်

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ် ၊WLIM/MDY/2/ MIC /2017

ရက်စွဲ ၊ ၂၀၁၇ ခုနှစ်၊ ဒီဇင်ဘာလ (၇) ရက် ။

ကျွန်တော်/ကျွန်မသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၃၆ နှင့်အညီ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အတွင်း ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုပါသဖြင့် ခွင့်ပြုပါရန် အောက်ပါအချက်အလက်များကိုဖော်ပြ၍ လျှောက်ထားအပ်ပါသည်-

၁။ ရင်းနှီးမြှုပ်နှံသူ၏-

| | |
|---|---|
| (က) အမည် | - **ဦးချစ်ခိုင် (ခ) ဦးကျော်နီ** |
| (ခ) အဖအမည် | - **ဦးဘိုနီ** |
| (ဂ) နိုင်ငံသားစိစစ်ရေးကတ်အမှတ်/ | - **၁၂/ အစန (နိုင်) ၀၇၈၂၆၃** |
| နိုင်ငံကူးလက်မှတ်အမှတ် | - |
| (ဃ) နိုင်ငံသား | - **မြန်မာ** |
| (င) နေရပ်လိပ်စာ | - |
| (၁) ပြည်တွင်း | - **အမှတ် (၁၀၈/ အက်ဖ်)၊ အင်းယားလမ်း၊ (၉) ရပ်ကွက်၊ ကမာရွတ်မြို့နယ်၊ ရန်ကုန်။** |
| (၂) ပြည်ပ | - |
| (စ) တယ်လီဖုန်း / ဖက်စ် | - **(၉၅) (၉) ၅၁၅၅၉၉၉** |
| (ဆ) အီးမေးလ်လိပ်စာ | - chairman@edenmyanmar.com |
| (ဇ) ပင်မကုမ္ပဏီအမည် | - ဝိုက်(ဒ်)လန်း အင်ဗက်(စ်) မန့် (မြန်မာ) လီမိတက် |
| (ဈ) ပင်မကုမ္ပဏီတည်ရှိရာလိပ်စာ | - အမှတ် (၁) ၊ ကမ္ဘာအေးဘုရားလမ်း၊ အမှတ် (၆) ရပ်ကွက်၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့။ |
| (ည) လုပ်ငန်းအမျိုးအစား | - ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း |

၂။ ဖက်စပ်ပြုလုပ်၍ ရင်းနှီးမြှုပ်နှံလိုပါကရင်းနှီးမြှုပ်နှံသူနှင့် ဖက်စပ်ပြုလုပ်မည့် သူများ၏ -

| | | | |
|---|---|---|---|
| (က) | အမည် | - | မရှိပါ |
| (ခ) | အဖအမည် | - | |
| (ဂ) | နိုင်ငံသားစိစစ်ရေးကတ်အမှတ်/ နိုင်ငံကူးလက်မှတ်အမှတ် | - | |
| (ဃ) | နိုင်ငံသား | - | |
| (င) | နေရပ်လိပ်စာ | - | |
| | (၁) ပြည်တွင်း | - | |
| | (၂) ပြည်ပ | - | |
| (စ) | ပင်မကုမ္ပဏီအမည် | - | |
| (ဆ) | ပင်မကုမ္ပဏီတည်ရှိရာလိပ်စာ | - | |

**မှတ်ချက်။** အထက်အပိုဒ် ၁၊ ၂ တို့နှင့် စပ်လျဉ်း၍ အောက်ပါအချက်များကို ပူးတွဲတင်ပြရန်-

(၁) ကုမ္ပဏီမှတ်ပုံတင်အထောက်အထားများ (မိတ္တူ)

(၂) နိုင်ငံသားစိစစ်ရေးကတ်အမှတ် (မိတ္တူ) နှင့် နိုင်ငံကူးလက်မှတ် (မိတ္တူ)

(၃) အဆိုပြုလုပ်ငန်းတွင် ပါဝင်လိုသူများ၏ လုပ်ငန်းပိုင်းနှင့် ငွေရေးကြေးရေးဆိုင်ရာ အထောက်အထားများ

၃။ ရင်းနှီးမြှုပ်နှံသူကိုယ်တိုင် လျှောက်ထားခြင်းမဟုတ်ပါက လျှောက်ထားသူ၏ -

(က) အမည် - **ရင်းနှီးမြှုပ်နှံသူကိုယ်တိုင်လျှောက်ထားခြင်းဖြစ်ပါသည် ။**

(ခ) ဆက်သွယ်ရမည့်ပုဂ္ဂိုလ်အမည် -

(လျှောက်ထားသူသည် စီးပွားရေးအဖွဲ့အစည်းဖြစ်ပါက)

**မှတ်ချက်။** တရားဝင်ကိုယ်စားလှယ်လွှဲစာပူးတွဲတင်ပြရန်

(ဂ) နိုင်ငံသားစိစစ်ရေးကတ်အမှတ်/နိုင်ငံကူးလက်မှတ်အမှတ် -

(ဃ) နိုင်ငံသား -

(င) မြန်မာနိုင်ငံတွင်နေထိုင်သည့် -

နေရပ်လိပ်စာ

(စ) တယ်လီဖုန်း / ဖက်စ် -

(ဆ) အီးမေးလ်လိပ်စာ -

၄။ ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့် လုပ်ငန်းအမျိုးအစား- **ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း**

၅။ ဖွဲ့စည်းမည့် စီးပွားရေးအဖွဲ့အစည်းပုံသဏ္ဍာန်

☒ ရာခိုင်နှုန်းပြည့် ☐ ဖက်စပ်ပြုလုပ်ခြင်း (ဖက်စပ်စာချုပ်မူကြမ်းတင်ပြရန်)

☐ အခြားသဘောတူညီချက်ပုံစံတစ်မျိုးမျိုးဖြင့်ဆောင်ရွက်ခြင်း (စာချုပ်မူကြမ်းတင်ပြရန်)

၆။ အစုရှယ်ယာရှင်များစာရင်း

| စဉ် | အစုရှယ်ယာရှင်အမည် | နိုင်ငံသား | အစုရှယ်ယာပိုင်ဆိုင်မှု % |
|---|---|---|---|
| | လိုအပ်သော အချက်အလက်များအား Annexure No. ( II )တွင်ဖော်ပြထားပါသည်။ | | |
| | | | |
| | | | |
| | | | |
| | | | |
| | | | |

၇။ ကုမ္ပဏီဖွဲ့စည်းခြင်းနှင့်သက်ဆိုင်သောအချက်အလက်များ

(က) ခွင့်ပြုမတည်ငွေရင်း - မြန်မာကျပ် ၅၀,၀၀၀,၀၀၀.၀၀/-

(ခ) အစုရှယ်ယာအမျိုးအစား - သာမန်အစုရှယ်ယာ

(ဂ) အစုရှယ်ယာဝင်များကထည့်ဝင်မည့် အစုရှယ်ယာပမာဏ - မြန်မာကျပ် ၁,၀၀၀ တန်

အစုရှယ်ယာပေါင်း (၅၀,၀၀၀)

**မှတ်ချက်။** သင်းဖွဲ့မှတ်တမ်း/သင်းဖွဲ့စည်းမျဉ်း သို့မဟုတ် ဖွဲ့စည်းပုံအခြေခံစည်းမျဉ်း ပူးတွဲတင်ပြရန်

၈။ မတည်ငွေရင်းနှင့်သက်ဆိုင်သည့်အချက်အလက်များ -

| | | ကျပ်/US$(သန်းပေါင်း) |
|---|---|---|
| (က) ပြည်တွင်းမှထည့်ဝင်မည့် မတည်ငွေရင်း ပမာဏ/ရာခိုင်နှုန်း | - | ကျပ် ၇၂,၈၀၀.၀၀ (၁၀၀%) |
| (ခ) နိုင်ငံခြားမှ ယူဆောင်လာမည့် မတည်ငွေရင်း ပမာဏ/ရာခိုင်နှုန်း | - | - |
| **စုစုပေါင်း** | | **ကျပ် ၇၂,၈၀၀.၀၀ (၁၀၀%)** |

(ဂ) အဆိုပြု မတည်ငွေရင်းနှစ်အလိုက်ထည့်ဝင်မည့်အခြေအနေ/ယူဆောင်လာမည့်ကာလ - **(၂)နှစ်**

(ဃ) ရင်းနှီးမြှုပ်နှံမှုတန်ဖိုး/ပမာဏ - **မြန်မာကျပ် ၇၂,၈၀၀,၀၀၀,၀၀၀. ၀၀**

(င) ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့် သက်တမ်း - **ကနဦး(၅၀ ) နှစ် နှင့် တစ်ဆက်တည်း သက်တမ်းတိုးခွင့် (၁၀) နှစ် နှစ်ကြိမ်**

(စ) ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းတည်ဆောက်မှုကာလ သို့မဟုတ် ပြင်ဆင်မှုကာလ -**( ၂)နှစ်**

**မှတ်ချက်။** အပိုဒ် ၈(င) နှင့် စပ်လျဉ်း၍ ထူးခြားသည့် အခြေအနေရှိပါက နောက်ဆက်တွဲဖြင့် ဖော်ပြပါရန်

၉။ နိုင်ငံခြားမှ ယူဆောင်တင်သွင်းလာမည့် မတည်ငွေရင်း၏ အသေးစိတ်စာရင်း -

| | | နိုင်ငံခြားငွေ(သန်းပေါင်း) | ညီမျှသည့်ခန့်မှန်းငွေကျပ် (သန်းပေါင်း) |
|---|---|---|---|
| (က) နိုင်ငံခြားငွေ (အမျိုးအစားနှင့် တန်ဖိုးပမာဏ) | - | - | - |
| (ခ) စက်ပစ္စည်းများ၊ စက်ကိရိယာများ စသည့်ပစ္စည်းတို့၏ တန်ဖိုးပမာဏ (အသေးစိတ်စာရင်း ပူးတွဲတင်ပြရန်) | - | - | - |
| (ဂ) ကနဦးကုန်ကြမ်းပစ္စည်းများနှင့် အခြားအလားတူပစ္စည်းများ၏ တန်ဖိုးပမာဏ (အသေးစိတ်စာရင်း ပူးတွဲတင်ပြရန်) | - | - | - |
| (ဃ) လိုင်စင်၊ တီထွင်မှုပိုင်ဆိုင်ခွင့်၊ စက်မှုဒီဇိုင်း၊ ကုန်အမှတ်တံဆိပ်၊ မူပိုင်ခွင့်စသည့် အသိဉာဏ်ဆိုင်ရာပစ္စည်းများကိုတန်ဖိုး ဖြစ်နိုင်သောအခွင့်အရေးများ၏ တန်ဖိုးပမာဏ | - | - | - |

| | | နိုင်ငံခြားငွေ(သန်းပေါင်း) | ညီမျှသည့်ခန့်မှန်းငွေကျပ်(သန်းပေါင်း) |
|---|---|---|---|
| (င) ကျွမ်းကျင်နည်းပညာရပ်များ၏ တန်ဖိုးပမာဏ | - | - | - |
| (စ) အခြား (ဥပမာ-ဆောက်လုပ်ရေး လုပ်ငန်းသုံးပစ္စည်းများ) | | - | - |
| **စုစုပေါင်း** | - | - | - |

**မှတ်ချက်။** အပိုဒ် ၉ (ဃ) (င) တို့နှင့် စပ်လျဉ်း၍ အသုံးပြုခွင့်အထောက်အထားများ ပူးတွဲတင်ပြရန်။

၁၀။ ပြည်တွင်းမှထည့်ဝင်မည့် မတည်ငွေရင်း၏ အသေးစိတ်စာရင်း

| | | | ကျပ် (သန်းပေါင်း) |
|---|---|---|---|
| (က) | ငွေပမာဏ | - | ၇၂,၈၀၀.၀၀ |
| (ခ) | စက်ပစ္စည်းကိရိယာများ တန်ဖိုးပမာဏ (အသေးစိတ်စာရင်း ပူးတွဲတင်ပြရန်) | - | |
| (ဂ) | မြေ/အဆောက်အအုံ တန်ဖိုး သို့မဟုတ် ငှားရမ်းခ | - | |
| (ဃ) | (၁) အဆောက်အအုံဆောက်လုပ်မှုကုန်ကျစရိတ် | - | |
| (င) | ပရိဘောဂနှင့် လုပ်ငန်းသုံးပစ္စည်းများ တန်ဖိုးပမာဏ (အသေးစိတ်စာရင်း ပူးတွဲတင်ပြရန်) | - | |
| (စ) | ကနဦးကုန်ကြမ်းပစ္စည်း တန်ဖိုးပမာဏ (အသေးစိတ်စာရင်း ပူးတွဲတင်ပြရန်) | - | |
| (ဆ) | အခြား | - | |
| | **စုစုပေါင်း** | - | ၇၂,၈၀၀.၀၀ |

၁၁။ ချေးငွေနှင့်သက်ဆိုင်သည့် အချက်အလက်များ-

☐ ပြည်တွင်းချေးငွေ ........................................................................ ကျပ်

........................................................................ အမေရိကန်ဒေါ်လာ

☐ ပြည်ပချေးငွေ ........................................................................ အမေရိကန်ဒေါ်လာ

၁၂။ ဆောင်ရွက်မည့် စီးပွားရေးအဖွဲ့အစည်းနှင့် သက်ဆိုင်သောအချက်အလက်များ-

(က) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်ဒေသ(များ)/ တည်နေရာ - မန္တလေးတိုင်းဒေသကြီး၊ မန္တလေးမြို့ ၊ ချမ်းအေးသာဇံမြို့နယ် ၊ ၂၆ လမ်း နှင့် ၆၆ လမ်းထောင့်

(ခ) မြေ သို့မဟုတ် မြေနှင့်အဆောက်အအုံနေရာအမျိုးအစားနှင့် အကျယ်အဝန်းလိုအပ်ချက်

(၁) တည်နေရာ - မန္တလေးတိုင်းဒေသကြီး

(၂) မြေ/အဆောက်အအုံအကျယ်အဝန်း၊ အရေအတွက် - ၄.၂၂၇ ဧက / ဟိုတယ်အဆောက်အအုံ (၁) လုံး (၁၉,၈၃၅ စတုရန်းမီတာ)

(၃) လက်ရှိပိုင်ဆိုင်သူ -

(ကက) အမည်/ ကုမ္ပဏီအမည်/ ဌာန - ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှုဦးစီးဌာန

(ခခ) နိုင်ငံသားစိစစ်ရေးကတ်အမှတ် - -

(ဂဂ) နေရပ်လိပ်စာ - ရုံးအမှတ် (၃၃)၊ နေပြည်တော်

(၄) မြေအမျိုးအစား - ဂရန်ကြီးဌာနပိုင်မြေ

(၅) မြေငှားဂရန် ခွင့်ပြုကာလ -

(၆) ငှားရမ်းမည့်ကာလ - ကနဦး နှစ် (၅၀) နှင့် သက်တမ်းတိုး (၁၀) နှစ် (၂) ကြိမ်

(၇) ငှားရမ်းခနှုန်းထား - (တစ်နှစ်) အမေရိကန်ဒေါ်လာ၄၆၂,၀၀၀. ၀၀

(ကက) မြေ - -

(ခခ) အဆောက်အအုံ - -

(၈) ရပ်ကွက် - -

(၉) မြို့နယ် - ချမ်းအေးသာဇံမြို့နယ်

(၁၀) ပြည်နယ်/တိုင်းဒေသကြီး - မန္တလေးတိုင်းဒေသကြီး

(၁၁) ငှားရမ်းမည့်ပုဂ္ဂိုလ် -

(ကက) အမည်/ ကုမ္ပဏီအမည်/ ဌာန - ဝိုက်(ဖ်)လန်း အင်ဗက်(စ်) မန္တ (မြန်မာ) လီမိတက်

(ခခ) အဖအမည် -

(ဂဂ) နိုင်ငံသား -

(ဃဃ) နိုင်ငံကူးလက်မှတ်အမှတ်/ နိုင်ငံသားစိစစ်ရေးကတ်အမှတ် - ၂၁၉၃/ ၂၀၁၇-၂၀၁၈ (ရက) (၂၈-၇-၂၀၁၇)

(ငင) နေရပ်လိပ်စာ - အမှတ်(၁)၊ ကမ္ဘာအေးဘုရားလမ်း၊ အမှတ် (၆) ရပ်ကွက်၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့။

(ဂ) ဆောက်လုပ်မည့်အဆောက်အအုံလိုအပ်ချက်

(၁) အဆောက်အအုံအမျိုးအစား/ အရေအတွက် -

(၂) အကျယ်အဝန်း -

(ဃ) နှစ်စဉ်ထုတ်လုပ်မည့် ကုန်ပစ္စည်း/ဝန်ဆောင်မှု - ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း

(င) နှစ်စဉ် လျှပ်စစ်ဓာတ်အားလိုအပ်ချက် - Annexure No. ( IV ) တွင်ဖော်ပြထားပါသည်

(စ) နှစ်စဉ် ရေလိုအပ်ချက် - Annexure No. ( V ) တွင်ဖော်ပြထားပါသည်

**မှတ်ချက်။** အပိုဒ် ၁၂ (ခ) နှင့် စပ်လျဉ်း၍ အောက်ပါအချက်များ ပူးတွဲတင်ပြရန်-

(၁) မြေပိုင်ဆိုင်မှု/ မြေငှားရန်အထောက်အထား (စက်မှုဇုန်မှ အပ)နှင့် မြေပုံ

(၂) မြေငှားစာချုပ် (မူကြမ်း)

၁၃။ ငွေကြေးပိုင်ဆိုင်မှုနှင့်ပတ်သက်၍ အသေးစိတ်ဖော်ပြချက်-

(က) အမည်/ ကုမ္ပဏီအမည် - **ဂိုက်(ဖ်)လန်း အင်ဗက်(စ်) မန့် (မြန်မာ) လီမိတက်**

(ခ) နိုင်ငံသားစိစစ်ရေးကတ်အမှတ်/ - ၂၁၉၃/ ၂၀၁၇-၂၀၁၈ (ရက) (၂၈-၇-၂၀၁၇)

နိုင်ငံကူးလက်မှတ်အမှတ်

(ဂ) ဘဏ်စာရင်းအမှတ် -

(မိခင်နိုင်ငံရှိဘဏ်ထောက်ခံချက် သို့မဟုတ် မိခင်ကုမ္ပဏီ၏စာရင်းစစ်ပြီးသည့် နှစ်ချုပ်စာရင်း ပူးတွဲတင်ပြရန်)

၁၄။ ဆောင်ရွက်မည့်စီးပွားရေးအဖွဲ့အစည်းတွင် လိုအပ်မည့် ဝန်ထမ်းများစာရင်း **(နှစ်အလိုက် ဝန်ထမ်း ခန့်ထားရန် လျာထားစာရင်းအသေးစိတ်ကို** Annexure ( VI ) မှ ( VI ) ( C ) အထိ **ပူးတွဲတင်ပြအပ်ပါသည်။)**

| စဉ် | အဆင့်အတန်း | မြန်မာနိုင်ငံသား | နိုင်ငံခြားသား | စုစုပေါင်း |
|---|---|---|---|---|
| (က) | အကြီးတန်းစီမံခန့်ခွဲမှု<br>(မန်နေဂျာများ၊ အဆင့်မြင့်အရာရှိများ) | ၁၀ | ၄ | ၁၄ |
| (ခ) | အခြားအဆင့်စီမံခန့်ခွဲမှု<br>(အကြီးတန်းစီမံခန့်ခွဲမှုမှအပ) | ၁၇ | | ၁၇ |
| (ဂ) | သက်မွေးဝမ်းကျောင်းပညာရှင်များ | ၁၃ | ၁ | ၁၄ |
| (ဃ) | နည်းပညာနှင့်ဆက်စပ်သည့်သက်မွေးပညာရှင် | ၂ | ၁ | ၃ |
| (င) | အကြံပေး | | | |
| (စ) | ကျွမ်းကျင်လုပ်သား | ၁၂၂ | | ၁၂၂ |
| (ဆ) | အခြေခံလုပ်သား | ၁၁၃ | | ၁၁၃ |
| | စုစုပေါင်း | ၂၇၇ | ၆ | ၂၈၃ |

**မှတ်ချက်။** ဒေါက်ဖော်ပြပါ ဖော်ပြချက်များပူးတွဲဖော်ပြရန်

(၁) လုပ်သားများ၏ လူမှုဖူလုံရေး၊ သက်သာချောင်ချိမှုဆောင်ရွက်မည့် အစီအမံများ

(၂) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းပြုလုပ်မည့် အစီအမံများ

၁၅။ အဆိုပြုချက်နှင့်အတူအောက်ဖော်ပြပါ လျှောက်ထားလွှာများကို တင်ပြလျှောက်ထားခြင်း ရှိ/မရှိ ဖော်ပြရန်-

☒ မြေအသုံးပြုခွင့်လျှောက်ထားလွှာ

☒ အခွန်ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်လျှောက်ထားလွှာ

၁၆။ အဆိုပြုရင်းနှီးမြှုပ်နှံမှုလုပ်ငန်းအကျဉ်းချုပ်အား နောက်ဆက်တွဲဖြင့် ဖော်ပြရန်။

**လျှောက်ထားသူလက်မှတ်** ......................................

| | |
|---|---|
| **အမည်** | **ဦးချစ်ခိုင်** |
| **ရာထူး** | **အဆိုပြုဒါရိုက်တာ** |
| **ဌာန/ကုမ္ပဏီတံဆိပ်** | **Wiseland Investment (Myanmar) Limited** |

ရက်စွဲ- ၂၀၁၇ ခုနှစ်၊ ဒီဇင်ဘာလ (၇) ရက် ။

အဆိုပြုရင်းနှီးမြှုပ်နှံမှုလုပ်ငန်းအကျဉ်းချုပ် (နည်းဥပဒေ ၃၈)

၁။ ရင်းနှီးမြှုပ်နှံမှုတွင် တိုက်ရိုက်ဖြစ်စေ၊ သွယ်ဝိုက်၍ဖြစ်စေ အကျိုးစီးပွား သိသာထင်ရှားစွာ ပါဝင်သော အခြားပုဂ္ဂိုလ်များဖော်ပြရန်-

(က) ရင်းနှီးမြှုပ်နှံသူမှ ရရှိမည့် အမြတ်ငွေ ၏ ၁၀% နှင့် အထက်ကို ပိုင်ဆိုင်ခွင့်ရှိသည့် သို့မဟုတ် ထိန်းချုပ်ခွင့်ရှိသည့် လုပ်ငန်း၏ -

(၁) အမည် - **ဇေဒင် ဟိုတယ် နှင့် အပန်းဖြေလုပ်ငန်း ကုမ္ပဏီလီမိတက်**

(၂) ဆက်သွယ်ရမည့်လိပ်စာ - **အမှတ် (၃၂/ဒီ)၊ တက္ကသိုလ်ရိပ်သာလမ်းသစ်၊ ဗဟန်းမြို့နယ်၊ ရန်ကုန်မြို့။**

(၃) မှတ်ပုံတင်အမှတ် - ၆၇၇/ ၂၀၀၅ -၂၀၀၆ (၁၅-၇-၂၀၀၅)

(တစ်ဦးထက်ပိုပါက နောက်ဆက်တွဲဖြင့်ဖော်ပြရန်)

(ခ) ခွင့်ပြုမည့်ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းဆောင်ရွက်ရာတွင် တိုက်ရိုက်ပါဝင်သည့် လက်အောက်ခံ ကုမ္ပဏီများရှိလျှင် အဆိုပါကုမ္ပဏီများ၏အမည်ကို ဖော်ပြရန်-

(၁) ------------------------------------------------------------

(၂) ------------------------------------------------------------

(၃) ------------------------------------------------------------

၂။ ရင်းနှီးမြှုပ်နှံမှု၏ အဓိကတည်နေရာ သို့မဟုတ် တည်နေရာများ - **မန္တလေးတိုင်းဒေသကြီး၊ မန္တလေးမြို့ ၊ ချမ်းအေးသာဇံမြို့နယ် ၊၂၆ လမ်း နှင့် ၆၆ လမ်းထောင့်**

၃။ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းပြုလုပ်မည့်ကဏ္ဍနှင့် ဆောင်ရွက်မည့်စီးပွားရေးလုပ်ငန်းများ ဖော်ပြချက် - **ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း**

၄။ အဆိုပြုထားသော ရင်းနှီးမြှုပ်နှံမှုပမာဏ (မြန်မာကျပ် နှင့် အမေရိကန်ဒေါ်လာ တို့ဖြင့် ဖော်ပြရန်) - **မြန်မာကျပ် ၇၂,၈၀၀,၀၀၀,၀၀၀. ၀၀ (အမေရိကန်ဒေါ်လာ ၅၆,၀၀၀,၀၀၀. ၀၀)**

၅။ ရင်းနှီးမြှုပ်နှံမှု အကောင်အထည်ဖော်မည့် ခန့်မှန်းအချိန်ဇယား အပါအဝင် အစီအစဉ်ဖော်ပြချက်-

(က) တည်ဆောက်ရေးကာလသို့မဟုတ် ပြင်ဆင်မှုကာလ (နှစ်၊ လတို့ဖြင့် ဖော်ပြရန်) — **မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက်ရရှိပြီး (၂) နှစ် အတွင်း**

(ခ) စီးပွားဖြစ်စတင်မည့်ကာလ (နှစ်၊ လတို့ဖြင့် ဖော်ပြရန်) — **တည်ဆောက်ရေးကာလသို့မဟုတ် ပြင်ဆင်မှုကာလ (၂) နှစ်ပြီးနောက်**

၆။ ခန့်ထားမည့် အလုပ်သမားဦးရေ -

(က) ပြည်တွင်း
(ခ) ပြည်ပ (ပညာရှင်/ကျွမ်းကျင်သူ)

} **Annexure ( VI ) မှ ( VI ) ( C ) အထိ ဖော်ပြထားပါသည်**

၇။ ပြည်ပမှ ပြည်တွင်းသို့ ယူဆောင်လာမည့် မတည်ရင်းနှီးမြှုပ်နှံမှုများတွင် ငွေသားဖြင့် ယူဆောင်မှုပမာဏ (Capital in-Cash)၊ ရင်းနှီးပစ္စည်း အဖြစ်ယူဆောင်လာမည့် ရင်းနှီးငွေပမာဏ (Capital in-Kinds) တို့အား တိကျစွာခွဲခြားသတ်မှတ် ဖော်ပြပေးရန် (မြန်မာကျပ်နှင့် အမေရိကန်ဒေါ်လာ တို့ဖြင့်ဖော်ပြရန်)-

(က) ငွေသားဖြင့်ယူဆောင်မှုပမာဏ — **- မြန်မာကျပ် ၇၂,၈၀၀,၀၀၀,၀၀၀. ၀၀**
**(အမေရိကန်ဒေါ်လာ ၅၆,၀၀၀,၀၀၀. ၀၀)**

(ခ) ပစ္စည်းအဖြစ်ယူဆောင်လာမည့် ရင်းနှီးငွေပမာဏ — - -

**မှတ်ချက်။** ရင်းနှီးမြှုပ်နှံသူသည် ရင်းနှီးမြှုပ်နှံမှုနှင့် သက်ဆိုင်သောလျှို့ဝှက်ထိန်းသိမ်းရမည့် သတင်းအချက်အလက်များအား ထုတ်ပြန်ခြင်းမှ ရှောင်ကြဉ်ရန် ကော်မရှင်ထံ တင်ပြ တောင်းဆိုနိုင်သည်။

## ကတိဝန်ခံချက်

အထက်ဖော်ပြပါ လျှောက်ထားသူမှပေးအပ်သည့် အချက်အလက်များအားလုံးသည် မှန်ကန်မှု ရှိပါကြောင်း အာမခံပါသည်။

ဤအဆိုပြုချက်တွင် ခွင့်ပြုမိန့်ထုတ်ပေးရန်အတွက် ကော်မရှင်မှ စိစစ်ရာ၌ လိုအပ်သည့် အချက်အလက်များကို လျှောက်ထားသူကပေးအပ်ရန် ပျက်ကွက်ပါက အဆိုပြုချက်ကိုငြင်းပယ်ခြင်း သို့မဟုတ် စိစစ်ရာ၌ မလိုလားအပ်သည့် နှောင့်နှေးကြန့်ကြာခြင်းတို့ဖြစ်ပေါ်နိုင်ကြောင်း ကောင်းစွာသဘောပေါက် နားလည်ပါသည်။

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ချမှတ်သည့် စည်းမျဉ်းစည်းကမ်းများကိုလည်း လိုက်နာမည် ဖြစ်ကြောင်း ဝန်ခံကတိပြုအပ်ပါသည်။

လျှောက်ထားသူလက်မှတ် ......................................

| | |
|---|---|
| အမည် | ဦးချစ်ခိုင် |
| ရာထူး | အဆိုပြုဒါရိုက်တာ |
| ဌာန/ကုမ္ပဏီတံဆိပ် | Wiseland Investment (Myanmar) Limited |

Form (2)

**Proposal Form for the Investment to be made**

**in the Republic of the Union of Myanmar**

To,

**Chairman**
**Myanmar Investment Commission**

Reference No. WLIM/MDY/2/MIC/2017
Dated: 7th December 2017

I do apply for the permission to make investment in the Republic of the Union of Myanmar in accordance with the Section 36 of the Myanmar Investment Law by furnishing the following particulars:-

1. The Investor's:-

| | | | |
|---|---|---|---|
| (a) | Name | | - **U Chit Khine @ U Johny** |
| (b) | Father's name | | - **U Bo Ni** |
| (c) | ID No./National Registration Card No./ Passport No. | | - **12/ Ah Sa Na (Naing) 078263** - |
| (d) | Citizenship | | - **Myanmar** |
| (e) | Address: | | - |
| | (i) | Address in Myanmar | - **No. (100 /F), Inya Road, (9) Ward, Kamayut Township, Yangon Region** |
| | (ii) | Residence abroad | - |
| (f) | Phone / Fax | | - **(95) (9) 5155 999** |
| (g) | E-mail address | | - **chairman@edenmyanmar.com** |
| (h) | Name of principal organization | | - **Wiseland Investment (Myanmar) Limited** |
| (i) | Principal company's address: | | - **No. (1), Kabaraye Pagoda Road, No. (6) Ward, Yankin Township, Yangon** |
| (j) | Type of Business | | - **Hotel Services** |

